ကုမ္ပဏီအမည်- Polar North Garment Co., Ltd.
လုပ်ငန်း- CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၈-၃-၂၀၁၄ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံ ရေးဦးစီးဌာန | ၂၉-၃-၂၀၁၄ | ၄-၄-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၃-၂၀၁၄ | ၆-၅-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၂၉-၃-၂၀၁၄ | ၂၃-၄-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၉-၃-၂၀၁၄ | ၂၂-၄-၂၀၁၄ | |
| | (င) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၂၉-၃-၂၀၁၄ | ၂၃-၄-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၅/၂၀၁၄) သို့ တင်ပြခြင်း | ၃-၄-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၈-၄-၂၀၁၄ | | |
| ၅ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | | | |
| | (က) ကော်မရှင်အစည်းအဝေး (၁၂/၂၀၁၄) သို့ တင်ပြခြင်း | ၁၀-၄-၂၀၁၄ | | |
| | (ခ) စီးပွားရေးရာကော်မတီအစည်းအဝေး (၁၅/၂၀၁၄)သို့ တင်ပြခြင်း | ၈-၅-၂၀၁၄ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ (၁၀/၂၀၁၄) အစည်းအဝေးသို့တင်ပြခြင်း | ၂၂-၅-၂၀၁၄ | | |
| ၆ | ကုမ္ပဏီသို့ လိုအပ်ချက်များပြင်ဆင်ရန် အကြောင်းကြားခြင်း | ၂၈-၄-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၁၀-၅-၂၀၁၄ | |
| ၈ | ကုမ္ပဏီ၏ ပြင်ဆင်ချက်များအား စက်မှု ဝန်ကြီး ဌာနနှင့် CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီတို့မှ ပြန်လည်ပေးပို့ခြင်း | | ၁၉-၅-၂၀၁၄ | |
| ၉ | ကုမ္ပဏီမှ တွက်ချက်မှုများ ပြန်လည်ပြင်ဆင် ခြင်း | | ၂၆-၅-၂၀၁၄ | |
| ၁၀ | စုစုပေါင်းကြာမြင့်ရက် ၄၈ ရက် | | | |

**ကန့်သတ်**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd. တည်ထောင် ၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Polar North Garment Co., Ltd.<br>- Mr. Hsu,Wei-Cheng (ထိုင်ဝမ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mr. Hsu,Wei-Cheng (ထိုင်ဝမ်နိုင်ငံသား) ၉၀ %<br>- Mr. Chen Po Wei (ထိုင်ဝမ်နိုင်ငံသား) ၁၀ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ်(၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ ဧက)<br>(၁၂၀ပေx၂၄၀ပေ တစ်ထပ်အဆောက်အဦတစ်လုံး) |
| | မြေပိုင်ရှင် | - ဒေါ်ခင်သန္တာသက် |
| ၃။ | နှစ်စဉ်မြေ နှင့် အဆောက်အဦငှားရမ်းခ | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၂၂,၃၂၄.၅၀) ဖြစ်ပါသည်။<br>- မြေတစ်စတုရန်းမီတာလျှင်(၁)နှစ်အမေရိကန်ဒေါ်လာ (၅.၅) နှုန်းဖြစ်ပါသည်။ |
| | မြေငှားသက်တမ်း | - ကနဦး ၃၀ နှစ်နှင့် ၅ နှစ်သက်တမ်း (၃) ကြိမ်တိုးမည်ဖြစ်ပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက် အရ၅နှစ် (၃)ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ | - ၁၈ လ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁.၀၂၂၉ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - US$ (သန်း) |
| | ငွေသား(ပြည်ပ) | ၀.၁၅၀၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၃၇၀၀ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၃၆၃၆ |
| | ပရိဘောဂ(ပြည်တွင်း) | ၀.၁၃၉၃ |
| | **စုစုပေါင်း** | ၁.၀၂၂၉ |
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၁၅၃၀ ဦး** |
| | ပြည်တွင်း | - ၁၅၁၀ ဦး (ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၅,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | - ၂၀ ဦး (ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၉၀၀ ၊ အမြင့်ဆုံးလစာမှာ US$ ၁,၀၀၀) |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ် ) | - US$ ၄.၂၈၉၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဌမနှစ် ) | - US$ ၃.၇၂၇၉ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဌမနှစ်) | - US$ ၀.၅၆၁၁သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) ဝင်ငွေခွန် | - US$ ၀.၁၈၇၀ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၃၁.၃၄ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၂၉၂၅၀၀ Unit |
| ၁၁။ | ပြည်ပမှအခွန်အကောက်ကင်းလွတ်ခွင့်တောင်းခံခြင်း | |
| | (က) စက်ပစ္စည်း | - US$ ၃၇၀,၀၀၀ တန်ဖိုးရှိ စက်ပစ္စည်းများကို **ပူးတွဲ-၁** ဖြင့် တင်ပြထားပါသည်။ |
| | (ခ ) ကုန်ကြမ်းပစ္စည်း | - **ပူးတွဲ-၂** ဖြင့်တင်ပြထားပါသည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင်အမြတ်ငွေမှ ၁ % ကို ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ ၁၀၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်တို့ဖြင့် တည်ဆောက်ထားခြင်းဖြစ်ပြီး ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါကြောင်း၊ စက်ရုံနံရံတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းတွင် မီးဘေး အန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထား ပါ ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို ပြဌာန်းထားသော ဥပဒေများနှင့် အညီ တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရကာ-၁/ န-၉၀၀၆/၂၀၁၄ (            )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇွန်လ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd. တည်ထောင် ၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ ထိုင်ဝမ် မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊မြေတိုင်းအမှတ်(၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ခင်သန္တာသက် နှင့် မြေငှားရမ်းသူ Polar North Garment Co.,Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် (မူကြမ်း) နှင့် လုပ်ငန်းတည်နေရာပြ မြေပုံတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်အဆောက်အဦ ဧရိယာမှာ မြေ ၄,၀၅၉ စတုရန်း မီတာ (၁.၀၀၃ဧက) ဖြစ်ပြီး ၁၂၀ပေ x ၂၄၀ပေ ကျယ်သော တစ်ထပ် အဆောက်အဦ တစ်လုံးတို့ ပါဝင်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခမှာ US$ ၂၂,၃၂၄.၅၀ ဖြစ်ပြီး တစ်နှစ်လျှင် တစ်စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ (၅.၅) နှုန်း ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ်နှင့် ၅ နှစ် ၃ ကြိမ်သက်တမ်းတိုးမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်ဖြစ်ပြီး ၅ နှစ် ၃ ကြိမ်သက်တမ်းတိုး မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁၈ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုမှာ US$ ၁.၀၂၂၉ သန်းဖြစ်ပြီး ငွေသား US$ ၀.၁၅၀၀ သန်းနှင့် စက်နှင့် စက်ပစ္စည်းကိရိယာ(ပြည်ပ) US$ ၀.၃၇၀၀ သန်း၊ ရုံးသုံးပစ္စည်း(ပြည်တွင်း) US$ ၀.၃၆၃၆ သန်း၊ ပရိဘောဂ(ပြည်တွင်း)US$၀.၁၃၉၃ တို့ ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်းဦးရေ (၁၅၀၀) ဦး နှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၂၀) ဦး၊ စုစုပေါင်း (၁၅၂၀) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ

ကျပ် ၄၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၉၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁,၀၀၀ ဖြစ် ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပြည်ပသို့ ၁၀၀ % တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။ ကုမ္ပဏီမှ ပုံမှန်နှစ် (၆) နှစ်မြောက် ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ပြည်ပပို့ (Pcs/000) | CMP လက်ခ (US$/Pcs) |
|---|---|---|
| All Kinds of jacket | 690 | 2.10 |
| All Kinds of Pants | 1,050 | 1.00 |
| All Kinds of Vest | 1,300 | 0.70 |
| All Kinds of T-Shirt | 1,100 | 0.80 |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၂၈၉၀ |
| ( ခ ) | အသုံးစရိတ် | ၃.၇၂၇၉ |
| ( ဂ ) | အသားတင်အမြတ် | ၀.၅၆၁၁ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၈၇၀ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄) နှစ်နှင့် (၁) လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၁.၃၄ % ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၉၆၀ ကျပ်နှုန်းဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည်နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်ခြင်း မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၄၉၀)ဦး၊ ပြည်ပလုပ်သား (၂၀) ဦးခန့် အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃၈ဧက)အား (၁)စတုရန်း မီတာလျှင် အမေရိကန်ဒေါ်လာ ၅.၅ ဖြင့် (၃၀)နှစ်၊ ထပ်တိုး (၅)နှစ် (၃)ကြိမ်၊စုစုပေါင်း (၄၅)နှစ်ငှားရမ်းပြီး လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်း ကျင်အား ထိခိုက်မှုမရှိအောင် စီမံဆောင်ရွက်မည်ဟု တင်ပြထား

ပါကြောင်း ကုမ္ပဏီ၏ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**မှ လုပ်ငန်းတွင်အဓိကအသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ် ပစ္စည်းများအား ပြန်လည်အသုံးပြုမည့် အစီအစဉ်၊ ယင်းစွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များစီမံဆောင်ရွက်သွားရန်၊ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများအသုံးပြုဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ် အရည်များအား စနစ်တကျစွန့်ပစ်မည့် အစီအအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံ ခန့်ခွဲမှုစီမံချက် ( Environmental Management Plan-EMP)ရေးဆွဲတင်ပြ ရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ တို့နှင့်အညီလိုက်နာကျင့်သုံး အကောင် အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုရှိ-မရှိ (Environmental Management Plan-EMP) လုပ်ငန်းများကိုလည်း ဆောင်ရွက်သည့် အဖွဲ့အစည်းများနှင့် ဆက်သွယ်၍ လုပ်ငန်းများဆောင်ရွက်မည် ဖြစ်ပါကြောင်းဝန်ခံချက်ပေးပို့ တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ ) **စက်မှုဝန်ကြီးဌာန**မှ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ လျှပ်စစ်သွယ်တန်း အသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများအား လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေ တို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ၏စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ နှင့် အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုပါကြောင်း၊ CMP လုပ်ခနှုန်းတင်ပြထားချက်တွင် Jacketအတွက်အနည်းငယ် လျော့နည်း နေသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း၊ ကုန်ကြမ်းနှင့်ပူးတွဲ သုံးပစ္စည်းတင်ပြထားချက်တွင် အခြားချုပ်

ထည်များ အတွက်ဆီလျော်မှုရှိသော် လည်း T-Shirt အတွက် အပ်ချည်အသုံးနှုန်း အနည်းငယ်များနေသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း၊ နှစ်အလိုက်ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်း လိုအပ်ချက်မှာ နှစ်အလိုက် ကုန်ထုတ်လုပ်မှုအရ လျော့နည်းနေသဖြင့် ပြင်ဆင်တင်ပြရန် လိုအပ်ပြီး ကြယ်သီး၊ ဇစ်နှင့်အပ်ချည်များ ၏သုံးစွဲမှု Unit အားဆီလျော်မှုရှိအောင် ပြင်ဆင်တင်ပြရန် လိုအပ်ပါကြောင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေ နှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက်ပြန် ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို စက်မှုဝန်ကြီးဌာနမှ စိစစ်ပြီးလက်ခံပါသည်။**

**နောက်ဆက်တွဲ-ဂ**

(ဃ) **CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ** တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်း၊ တားမြစ်သတ်မှတ်စံနှုန်းများ တွက်ချက်ရာတွင် ကိုက်ညီမှု ရှိပါကြောင်း၊ ကုန်ကြမ်းအရေအတွက် ကိုက်ညီမှုရှိပါကြောင်း၊ CMP လက်ခနှုန်းထားများသည် အထည်ချုပ်အသင်း၏ လက်ရှိ CMP လက်ခနှုန်းထားများနှင့် နှိုင်းယှဉ်ရာတွင် ဆီလျော်မှု ရှိပါကြောင်း၊ Skilled Worker(၁၁၂၀)ဦး၊ Unskilled Workers(၃၀၀)ဦးတို့ဖြစ်ပြီး QC(၁၈)ဦးရှိ၍ တိုးမြှင့်ခန့်ထားသင့်ပါကြောင်း၊ စက်အင်အားနှင့် လူအင်အား အချိုးအစားနှင့် ထုတ်လုပ်မည်ဆိုပါက T-shirt တစ်မျိုးတည်းသာ ထုတ်လုပ်နိုင်ပြီး ကျန်အမျိုးအစားများမှာ သုံးပုံနှစ်ပုံခန့် ထုတ်လုပ်နိုင်သဖြင့် ထုတ်လုပ်နိုင်သည့် အတိုင်းသာ ကုန်ကြမ်းတင်သွင်း သင့်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမွဲတေမှု လျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍အဆိုပြုလုပ်ငန်းကို အားပေးဆောင်ရွက်သင့်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ချက်များကို CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှစိစစ်ပြီးလက်ခံပါသည်။** **နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Mr.Hsu,Wei-Cheng သည် ၁၈-၃-၂၀၁၄ နေ့တွင် ဟောင်ကောင်ရှိCTBC Bank ၌ US$၂၅၂,၁၁၆.၅၇ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Polar North Garment Co., Ltd. မှ ဝန်ထမ်းများ၏ လုပ်ခလစာ ဝင်ငွေခွန် ထမ်းဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ မီးဘေးကြိုတင် ကာကွယ် ရေး အတွက် စီမံချက်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေနှင့် စက်ရုံဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုတို့ကို တင်ပြထားပါသည်။ ထို့အပြင် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေးကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင်အမြတ်ငွေမှ ၁ % ကို ရန်ပုံ ငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။

၁၃။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** Polar North Garment Co., Ltd. သည် မီးဘေးကြိုတင်ကာကွယ်ရေးအတွက် စက်ရုံဝင်းအတွင်း ရေဂါလံ(၁၅,၀၀၀)ဆံ့ ရေကန် (၂) ခု ဆောက်လုပ်မည် ဖြစ်ကြောင်း၊ စက်ရုံအဆောက်အဦအတွင်းတွင် မီးသတ်ဆေးဗူးများကို ထားရှိမည် ဖြစ်ကြောင်း၊ စက်ရုံအဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်နှင့် သံထည်ပစ္စည်းများဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကပ် မီးသတ်ဆေးဗူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ပြီး ၎င်းတို့ကို ဝန်ထမ်းများ တိကျစွာ လိုက်နာ ဆောင်ရွက်နိုင်ရန်လည်း စီမံထားရှိပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအတွက် အရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန်တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့်ထုတ်ပြန်ထားသည့် စီးပွားရေးအမျိုးအစားတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၅/၂၀၁၄) (၃-၄-၂၀၁၄) အစည်းအဝေးသို့ တင်ပြပြီး ဖြစ်ပါသည်။

၁၇။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင်ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ် မေလ (၂၂) ရက်၊ အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၄) မှ သဘောတူထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံတွင် Polar North Garment Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်း မီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

ကန့်သတ်

၆

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| | Polar North Garment Co., Ltd. | (၁) Mr. Hsu,Wei-Cheng<br>Managing Director<br>Taiwanese<br>P.P No. 303438402 | No.4,Lane 232 Pao Chiao Road, Hsin-Tien(231),Taipei Taiwan, The People's Republic of China. |
| | | (၂) Mr. Chen, Po-Wei<br>Director<br>Taiwanese<br>P.P No. G 36980654 | No,2,Aly.1,Ln.351Zjpmgzjemg Rd., Luzhu Township, Taoyuan Country 33848, Taiwan , The People's Republic of China. |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၉-၇၃၀၆၃၅၇၃ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်ကြည်အေး |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

MIC

Form (2)

Republic of the Union of Myanmar
Sr. No. 77-h
Date 8.8.2014
Myanmar Investment Commission

# THE REPUBLIC OF THE UNION OF MYANMAR

## The Myanmar Investment Commission

## PERMIT

Permit No. 753/2014 Date 8 August 2014

This Permit is issued by the Myanmar Investment Commission according to the section 13, sub-section (b) of the Republic of the Union of Myanmar Foreign Investment Law-

(a) Name of Investor/Promoter MR. HSU, WEI-CHENG

(b) Citizenship CHINESE

(c) Address NO.4, LANE 232 PAO CHIAO ROAD, HSIN-TIEN (231), TAIPEI TAIWAN, REPUBLIC OF CHINA

(d) Name and Address of principal organization -

(e) Place of incorporation -

(f) Type of investment business MANUFACTURING OF GARMENTS ON CMP BASIS

(g) Place(s) at which investment is permitted MYAY TAING BLOCK NO.18, PLOT NO.5(KA)+234(KA), INNWA STREET, SHWE PAUKKAN INDUSTRIAL ZONE, NORTH OKKALAPA TOWNSHIP, YANGON REGION

(h) Amount of foreign capital US$ 1.0229 MILLION

(i) Period for foreign capital brought in WITHIN ONE YEAR FROM THE DATE OF ISSUANCE OF MIC PERMIT

(j) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 1.0229 MILLION

(k) Construction period 18 MONTHS

(l) Validity of investment permit 30 YEARS

(m) Form of investment WHOLLY FOREIGN OWNED INVESTMENT

(n) Name of company incorporated in Myanmar POLAR NORTH GARMENT CO., LTD.

Chairman

The Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၇၅၃/၂၀၁၄ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၈ ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၃၊ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) ကမကထပြုသူ၏အမည် MR. HSU, WEI-CHENG

(ခ) နိုင်ငံသား CHINESE

(ဂ) နေရပ်လိပ်စာ NO.4,LANE 232 PAO CHIAO ROAD, HSIN-TIEN (231), TAIPEI TAIWAN, REPUBLIC OF CHINA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ

(င) ဖွဲ့စည်းရာအရပ်

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေတိုင်းရပ်ကွက် အမှတ်(၁၈)၊ မြေကွက် အမှတ်၅(က)+၂၃၄(က)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၁.၀၂၂၉ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ (၁) နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၁.၀၂၂၉ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) တည်ဆောက်မှုကာလ ၁၈ လ

(ဌ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်

POLAR NORTH GARMENT CO., LTD.

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Confidential

Republic of the Union of Myanmar
Sr.No.
Date
Myanmar Investment Commission

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**
**No.(1), Thitsar Road, Yankin Township, Yangon**

Our ref: DICA-1/FI-1006/2014( 77-h ) Tel: 01-657890
Date: 8 August 2014 Fax: 95-1-657825

**Subject: Decision of the Myanmar Investment Commission on the Proposal for "Manufacturing of Garments on CMP Basis" under the name of "Polar North Garment Co., Ltd."**

Reference: Polar North Garment Co., Ltd., Letter dated (28-3-2014).

1. The Myanmar Investment Commission, at its meeting (16/2014) held on (13-6-2014) had approved that the proposal for investment in "Manufacturing of Garments on CMP Basis" under the name of "Polar North Garment Co., Ltd." submitted by Mr. Hsu, Wei-Cheng (90 %) and Mr. Chen Po Wei (10 %) from Republic of China as a wholly foreign owned investment.

2. Hence, the "Permit" is herewith issued in accordance with Chapter VII, section 13(b) of the Foreign Investment Law and Chapter VIII, Rule 49 of the Foreign Investment Rules relating to the Foreign Investment Law. Terms and conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be 30 (Thirty) years and extendable for another 5 (five) years one time period.

4. The Lease term for the land lease agreement shall be 30(Thirty) years and extendable for another 5(five) years. The annual rent for the land shall be US$ 22,324.50 (United States Dollar twenty-two thousand three hundred and twenty-four and fifty cent only) calculated at the rate of US$ 5.5 per square meter per year of the land measuring 4059.00 square meter (1.003 acres). The rate of rent shall be revised in view of prevailing land lease rates after every 5 (five) years period and increase of the rent shall not be more than 10 % of the preceding annual rent.

5. In issuing this "Permit," the Commission has granted, the followings exemptions and reliefs as per Chapter XII, section 27 (a), (h), (i) and (k) of the Foreign Investment Law. Other exemptions and reliefs under section 27 shall have to be applied upon the actual performance of the project;

(a) As per section 27(a), income tax exemption for a period of five consecutive years including the year of commencement on commercial production;

Confidential

(b) As per section 27(h), exemption or relief from customs duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(c) As per section 27(i), exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business;

(d) As per section 27(k), exemption or relief from commercial tax on the goods produced for export.

6. Polar North Garment Co., Ltd. shall have to sign the Land and Building Lease Agreement with Daw Khin Thandar Thet. After signing the Agreement, (5) copies shall have to be forwarded to the Commission.

7. Polar North Garment Co., Ltd. in consultation with the Department of Company Registration, Directorate of Investment and Company Administration shall have to be registered. After registration, (5) copies each of Certificate of Incorporation and Memorandum of Association and Articles of Association shall have to be forwarded to the Commission.

8. Polar North Garment Co., Ltd. shall use its best efforts for timely realization of works stated in the Proposal. If none of such works has been commenced within one year from the date of issue of this "Permit" it shall become null and void.

9. Polar North Garment Co., Ltd. has to abide by Chapter X, Rule 58 and 59 of the Foreign Investment Rules for construction period.

10. As per Chapter X, Rule 61 of the Foreign Investment Rules extension of construction period shall not be allowed more than twice except it is due to unavoidable events such as natural disasters, instabilities, riots, strikes, emergency of State condition, insurgency and outbreak of wars.

11. As per Chapter X, Rule 63 of the Foreign Investment Rules, if Polar North Garment Co., Ltd. cannot construct completely in time during the construction period or extension period, the Commission will have to withdraw the permit issued to the investor and there is no refund for the expenses of the project.

12. The commercial date of operation shall be reported to the Commission.

13. Polar North Garment Co., Ltd. shall endeavour to meet the targets for production and export stated in the proposal as the minimum target.

14. The Commission approves periodical appointments of foreign experts and technicians from abroad as per proposal in accordance with Chapter XI, section 24 and section 25 of the Foreign Investment Law and the investor has to follow the existing Labour Laws for the recruitment of staff and labour in accordance with Chapter XIII, Rule 84 of the Foreign Investment Rules.

15. In order to evaluate foreign capital and for the purpose of its registration in accordance with the provisions under Chapter XV, section 37 of the Foreign Investment Law, it is compulsory to report as early as possible in the following manner:-

(a) the amount of foreign currency brought into Myanmar, attached with the necessary documents issued by the respective bank where the account is opened and defined under Chapter XVI, Rule 134 and 135 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined under Chapter I, section 2 (i) of the Foreign Investment Law, other than foreign currency.

16. Polar North Garment Co., Ltd. brings in foreign capital defined under Chapter I, section 2 (i) of the Foreign Investment Law, other than foreign currency in the manner stated in paragraph 15(b) mentioned above, the Inspection Certificate endorsed and issued by an internationally recognized Inspection Firm with regard to quantity, quality and price of imported materials shall have to be attached.

17. Polar North Garment Co., Ltd. has the right to make account transfer and expend the foreign currency from his bank account in accordance with Chapter XVI, Rule 136 and for transfer of local currency generated from the business to the local currency account opened at the bank by a citizen or a citizen-owned business in the State and right to transfer back the equivalent amount of foreign currency from the foreign currency bank account of citizen or citizen-owned business by submitting the sufficient document in accordance with Chapter XVII, Rule 145 of the Foreign Investment Rules.

18. Polar North Garment Co., Ltd. shall report to the Commission for any alteration in the physical and financial plan of the project. Cost over run,

over and above the investment amount pledged in both local and foreign currency shall have to be reported as early as possible.

19. Polar North Garment Co., Ltd. shall be responsible for the preservation of the environment at and around the area of the project site. In addition to this, it shall carry out as per instructions made by Ministry of Environmental Conservation and Forestry in which to conduct an Environmental Management Plan (EMP) which describe the measure to be taken for preventing, mitigation and monitoring significant environmental impacts resulting from the implementation and operation of proposed project or business or activity has to be prepared and submitted and to perform activities in accordance with this EMP and to abide by the environmental policy, Environmental Conservation Law and other environmental related rules and procedures.

20. Polar North Garment Co., Ltd. shall contribute 1 % of the annual net profit for Corporate Social Responsibility (CSR) activities in Myanmar.

21. After getting permit from Myanmar Investment Commission, Polar North Garment Co., Ltd. shall have to be registered at the Directorate of Industrial Supervision and Inspection.

22. Polar North Garment Co., Ltd. shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to undertake such as water storage tank, fire extinguishers and provide training to use the fire fighting equipment and to appoint fire safety officer.

23. Payment of principal and interest of the loan (if any) as well as payment for import of raw materials and spare parts etc., shall be made from export earning (CMP charges) of Polar North Garment Co., Ltd. Commercial tax shall be levied on sales of reject items.

24. Polar North Garment Co., Ltd. in consultation with Myanma Insurance, shall effect such types of insurance defined under Chapter XII, Rule 79 and 80 of the Foreign Investment Rules.

(Zay Yar Aung)

Chairman

**Polar North Garment Co., Ltd.**

cc:
1. Office of the Union Government of the Republic of the Union of Myanmar
2. Office of the Bago Region Government
3. Ministry of National Planning and Economic Development
4. Ministry of Finance
5. Ministry of Commerce
6. Ministry of Industry
7. Ministry of Foreign Affairs
8. Ministry of Home Affairs
9. Ministry of Immigration and Population
10. Ministry of Labour, Employment and Social Security
11. Ministry of Environmental Conservation and Forestry
12. Ministry of Electric Power
13. Chairman, CMP Enterprise Supervision Committee
14. Director General, Directorate of Investment and Company Administration
15. Director General, Directorate of Human Settlement and Housing Development
16. Director General, Directorate of Industrial Supervision and Inspection
17. Director General, Customs Department
18. Director General, Internal Revenue Department
19. Managing Director, Myanma Foreign Trade Bank
20. Managing Director, Myanma Investment and Commercial Bank
21. Managing Director, Myanma Insurance
22. Managing Director, Myanma Electric Power Enterprise
23. Director General, Directorate of Trade
24. Director General, Immigration and National Registration Department
25. Director General, Directorate of Labour

26. Director General, Department of Environmental Conservation
27. Director General, Fire Services Department
28. Chairman, Republic of the Union of Myanmar Federation of Chambers of Commerce and Industry (UMFCCI)
29. Chairman, Myanma Economic Holdings Limited

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ -၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
🖷 -၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၁၀၀၆/၂၀၁၄(၃၄၆၄-၈)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၈ ရက်

သို့

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း (၆) အပိုဒ်(၄၃) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် သက်ဆိုင်ရာတိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရမှ ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန်နှင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အပိုဒ် (၄၄) နှင့်အညီ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန် အဆိုပြုလွှာ(တစ်)စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/ မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှု ရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိ။

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ Polar North Garment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ကြည်အေး၊ တယ်လီဖုန်း ၀၉-၇၃၀၆၃၅၇၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
Polar North Garment Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

Myanmar Investment Commission
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်
☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
📠 ၀၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရကာ- ၁/န- ၁၀၀၆/၂၀၁၄ (၃၄၆၄၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၆ ရက်

သို့

CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ် (၄၆) ပါ ပြဋ္ဌာန်းချက် နှင့်အညီ အဆိုပြု ချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြား ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ-မရှိ။
(ခ) CMP လက်ခနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ- မရှိ။
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အား/ လူအင်အား အချိုးအစား ညီမျှမှု ရှိ- မရှိ။

၄။ Polar North Garment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ကြည်အေး၊ တယ်လီဖုန်း ၀၉-၇၃၀၆၃၅၇၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

Sawbwa VT Limited

ရုံးလက်ခံ/ မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Myanmar Investment Commission

☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
📠 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက-၁/န-၁၀၀၆/၂၀၁၄ (၃၄၉၄-၅၅)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၆ ရက်

**သို့**

**ပြည်ထောင်စုဝန်ကြီးရုံး**
**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ် (၄၆) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် အားစာလက်ခံရရှိသည့် နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၄။ Polar North Garment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ကြည်အေး၊ တယ်လီဖုန်း၀၉-၇၃၀၆၃၅၇၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
Polar North Garment Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Myanmar Investment Commission

☎ -၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

Fax -၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၁၀၀၆/၂၀၁၄(၃၄၆၄-)၃၇

ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၆ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃) နှင့် (၄၅) ပါ ပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၄။ Polar North Garment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ကြည်အေး၊ တယ်လီဖုန်း ၀၉-၇၃၀၆၃၅၇၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

Polar North Garment Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အဆိုပြုချက်စိစစ်ရေးအဖွဲ့
ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ -၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
📠 -၀၆၇-၄၀၆၃၃၃

စာအမှတ်၊ရက-၁/န-၁၀၀၆/၂၀၁၄ ( ၃၄၄၃ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၈ ရက်

သို့

**ညွှန်ကြားရေးမှူးချုပ်**
**စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက် အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်း အမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း (၆) အပိုဒ် (၄၆) ပါ ပြဋ္ဌာန်းချက်နှင့် အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် အား စာလက်ခံရရှိသည့်နေ့မှစ၍ ခုနှစ်ရက်အတွင်း ပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၄။ Polar North Garment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဒေါ်ကြည်အေး၊ တယ်လီဖုန်း ၀၉-၇၃၀၆၃၅၇၃ ဖြစ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စန်းစန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

Polar North Garment Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

☎ ၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅
📠 ၉၅-၆၇-၄၀၆၃၃၃

စာအမှတ်၊ရက- ၁/န- ၁၀၀၆/၂၀၁၄ ( ၃၄၄၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မတ်လ ၂၈ ရက်

သို့

ကုမ္ပဏီများညွှန်ကြားမှုဌာန

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd. တည်ထောင် ၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ Polar North Garment Co., Ltd. ၏ (၂၈-၃-၂၀၁၄) ရက်စွဲပါစာ

၁။ တရုတ်သမ္မတနိုင်ငံ(ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀ % နှင့် Mr. Chen Po wei ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁.၀၀၃ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုချက် တင်ပြလာမှုအား သိသာနိုင်ပါရန်နှင့် လိုအပ်သလိုဆက်လက် ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(စန်းစန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူ-
ရုံးလက်ခံ/ မျှောစာတွဲ

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်..၁၂၉၅..
ရက်စွဲ၂..၅..၁၄
ရန်ကုန်တိုင်းဒေသကြီး

M-4413
8/5/14

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ ဧပြီ လ ၃၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈. ၃. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၁/န-၁၀၀၆/၂၀၁၄(၃၄၆၄-၈)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ (ထိုင်ဝမ်)မှ Mr. Hsu, Wei-Cheng ၉၀% နှင့် Mr. Chen Po Wei ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၄,၀၅၉ စတုရန်းမီတာ (၁. ၀၀၃ ဧက) ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် အောက်ပါအချက်များအား သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

( ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၄၉၀)ဦး ၊ ပြည်ပလုပ်သား (၂၀)ဦးခန့် အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

( ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် မြေ ၄,၀၅၉ စတုရန်းမီတာ (၁. ၀၀၃ ဧက)အား (၁)စတုရန်းမီတာလျှင် အမေရိကန် ၅. ၅ဒေါ်လာဖြင့် (၃၀)နှစ်၊ ထပ်တိုး(၅)နှစ် (၃)ကြိမ်၊ စုစုပေါင်း(၄၅)နှစ်ငှားရမ်းပြီး လုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိအောင် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၆. ၄. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၁)အရ Polar North Garment Co., Ltd..၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
မြောက်ဥက္ကလာပမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Polar North Garment Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M-4332
24/4/14

စာအမှတ် ၂/၂၂၀(ခ)(၆)/(၂၈၀၉ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ဧပြီလ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>Polar North Garment Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၃ -၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၁/န-၁၀၀၆/၂၀၁၄(၃၄၆၄-ည)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တရုတ်သမ္မတနိုင်ငံ (ထိုင်ဝမ်) မှ Mr. Hsu, Wei-Cheng သည် ၉၀% နှင့် Mr. Chen Po Wei သည် ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Polar North Garment Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် ၅(က)+ ၂၃၄(က)၊ မြေတိုင်းအမှတ် (၁၈)၊ အင်းဝလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၄၀၅၉)စတုရန်းမီတာ ၊ (၁.၀၀၃)ဧကၥ် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့် လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံမှု ကာလမှာ ကနဦးနှစ်(၃၀)ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ မြေငှားစာချုပ်၊ ထုတ်လုပ်မည့်ကုန်ပစ္စည်းအမျိုးအစား၊ အထည်ချုပ်စက်ရုံပုံစံ၊ ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များ၊အသုံးပြုမည့် စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းစာရင်း၊စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေး နှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ၊ မီးဘေးကာကွယ်ရေး အစီအစဉ်များ ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှု အစီ အစဉ်များ ဖော်ပြပါရှိပြီး စွန့်ပစ်ပစ္စည်းများအား ပြန်လည်အသုံးပြုမည့် နည်းစနစ်များ ၊ ထုတ်လုပ်မှုနည်းစဉ်နှင့် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည့် အသေးစိတ်အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ လုပ်ငန်းတွင် အသုံးပြုမည့် Fabric စသည့် ကုန်ကြမ်းပိတ်စ / ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ ပိတ်စဖြတ်ခြင်း၊ ပုံစံညှပ်ခြင်း၊ အထည်ချုပ်လုပ်ခြင်း

လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည် ဖြစ် သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Polar North Garment Co., Ltd မှ အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ကို တင်ပြအပ်ပါသည်-

(က) လုပ်ငန်းတွင် အဓိကအသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ် ပစ္စည်းများအား ပြန်လည်အသုံးပြုမည့် အစီအစဉ် ၊ ယင်းစွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်များ စီမံဆောင်ရွက်သွားရန်၊

(ခ) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ဂ) စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွှန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

